# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄/န-ထွေ/၂၀၁၇ ( ၅၁၂ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင် လ ၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အတည်ပြုခွင့်ပြုချက်ဖြင့်ဆောင်ရွက်မည့်လုပ်ငန်းများအမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးခွင့်ပြု ပါရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၃၇)အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလျှောက်ထားလာသည့် ကဏ္ဍအလိုက် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ကဏ္ဍများ | အရေအတွက် |
|---|---|---|
| (က) | စိုက်ပျိုးရေးကဏ္ဍ | ၁ |
| (ခ) | မွေးမြူရေးကဏ္ဍ | ၁ |
| (ဂ) | စက်မှုကဏ္ဍ | ၇ |
| (ဃ) | အခြားဝန်ဆောင်မှုကဏ္ဍ | ၃ |
| | **စုစုပေါင်း** | ၁၂ |

၂။ အတည်ပြုတင်ပြချက်များအရ စိုက်ပျိုးရေးကဏ္ဍမှလုပ်ငန်း(၁)ခု၊ မွေးမြူရေးကဏ္ဍမှ လုပ်ငန်း(၁)ခု ၊ စက်မှုကဏ္ဍမှ လုပ်ငန်း(၇)ခု နှင့် အခြားဝန်ဆောင်မှုကဏ္ဍမှ လုပ်ငန်း(၃)ခု ဖြစ်ပြီး လုပ်ငန်းများ၏ အဓိက အချက်အလက်များအား တင်ပြအပ်ပါသည်-

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း US$ (သန်း) | စုစုပေါင်း မတည်ငွေရင်း ကျပ် (သန်း) | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| Golden Seafood Production Co., Ltd. | မြေကွက်အမှတ်(၇)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၁.၈၀ | - | ပုစွန်နှင့်ငါးကင်းပျော့များကိုတန်ဖိုးမြှင့်ပြုပြင် ထုတ်လုပ်၍ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း | ၃၄၅ ဦး ပြည်တွင်း ၃၃၀ ဦး ပြည်ပ ၁၅ ဦး | ကနဦး၅၀ နှစ် နှင့် ၁၀ နှစ် (၂)ကြိမ် သက်တမ်းတိုး |
| Myanmar Golden Produce Co., Ltd. | မြေကွက်အမှတ်-ဒ-၂၈၊ ဒ-၂၉၊ မြေတိုင်းရပ်ကွက် အမှတ်-၁၀/ ဒက္ခိဏသီရိအနောက်ရပ်၊ဒက္ခိဏသီရိ မြို့နယ်၊ နေပြည်တော် | - | ၃၅၀၀.၀၀ | ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံ တန်ဖိုးမြှင့် ထုတ်ကုန်ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း | ၂၂၂ ဦး ပြည်တွင်း ၂၂၀ ဦး ပြည်ပ ၂ ဦး | - |
| The Grand Manufacturing Co., Ltd. | ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊စင့်ကင်ကျေးရွာ အုပ်စု၊ (O-S-S)စင့်ကင် ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ | - | ၂၇၈၁.၄၉ | နွားမွေးမြူရောင်းချခြင်းလုပ်ငန်း | ၈၆ ဦး ပြည်တွင်း ၇၀ ဦး ပြည်ပ ၁၆ ဦး | ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် (၂)ကြိမ် သက်တမ်းတိုး |

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း US$ (သန်း) | စုစုပေါင်း မတည်ငွေရင်း ကျပ် (သန်း) | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| Myfood Industries Myanmar Co., Ltd. | ဦးပိုင်အမှတ်-၄၊ ကွင်းအမှတ်- (၁၁-ဂ)၊ နောင်ဗုတ်ရွာအနောက် မြောက်၊နမ့်ဆီးကျေးရွာ အုပ်စု၊တောင်ကြီး မြို့နယ်၊ ရှမ်းပြည်နယ် | ၁၀.၃၉၈ | - | သစ်သီးများနှင့် ဟင်းသီးဟင်းရွက် များ စိုက်ပျိုးထုတ်လုပ် ခြင်းနှင့်စည်သွပ် ထုတ်လုပ်ခြင်းလုပ်ငန်း | ၁၇၃ ဦး ပြည်တွင်း ၁၇၀ ဦး ပြည်ပ ၃ ဦး | ကနဦး ၅၀ နှစ် နှင့် သက်တမ်း တိုး ၁၀ နှစ် (၂)ကြိမ် |
| Asdet (Myanmar) Garment Co., Ltd. | မြေကွက်အမှတ်-၄၅၈ မြေတိုင်းရပ်ကွက် အမှတ်-၂၅၊ရွှေလင်ပန်း စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၂.၀၃၆ | - | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း | ၁၂၉၀ ဦး ပြည်တွင်း ၁၂၇၀ ဦး ပြည်ပ ၂၀ဦး | ကနဦး ၁၀နှစ် သက်တမ်း တိုး ၅ နှစ် ၂ ကြိမ် |
| Yangon Sponge Co., Ltd. | မြေကွက်အမှတ်-၅၃၊ မြေတိုင်းရပ်ကွက် အမှတ်-၂၁၊ မြစိမ်းရောင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | - | ၁၃၅၀ | ဖော့ရေမြှုပ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း | ၁၁၅ ဦး ပြည်တွင်း ၁၀၀ ဦး ပြည်ပ ၁၅ဦး | ကနဦး ၁၀ နှစ် ၅ နှစ် ၂ ကြိမ် သက်တမ်း တိုး |
| Myanmar Recycles Co., Ltd. | မြေကွက်အမှတ် ၁၆၊ မြောင်းတကာ စက်မှုဇုန်၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၀.၇၅ | | စွန့်ပစ်ပလတ်စတစ် အိတ်များမှ ပြန်လည် အသုံးချ ထုတ်ကုန်များ (Waste Recycled Products) ဖြစ်သည့် ကော်စေ့များနှင့် အမှိုက် အိတ်များ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း | ၁၁၉ဦး ပြည်တွင်း ၁၁၅ ဦး ပြည်ပ ၄ဦး | ကနဦး ၁၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်း တိုး |
| BSK Leather Myanmar Co., Ltd. | မြေကွက်အမှတ်-၂၅၁/ က၊ မြေတိုင်းရပ်ကွက် အမှတ် စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသ ကြီး | ၁.၂၁၇ | - | CMP စနစ်ဖြင့် အိတ် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း | ၄၀၀ ဦး ပြည်တွင်း ၃၉၀ ဦး ပြည်ပ ၁၀ဦး | ကနဦး ၅ နှစ် (သက်တမ်း တိုး ၁၀နှစ် ၂ ကြိမ်) |

| ကုမ္ပဏီအမည် | တည်နေရာ | စုစုပေါင်း မတည်ငွေရင်း US$ (သန်း) | ကျပ် (သန်း) | လုပ်ငန်း အမျိုးအစား | လုပ်သား အင်အား | မြေငှားရမ်း ကာလ |
|---|---|---|---|---|---|---|
| Amity (Myanmar) Lingerie Co., Ltd. | မြေကွက်အမှတ်၅၃၊ ကွင်းအမှတ်-၁၁၉၀-ခ၊ ဂုံမင်းအင်း အရှေ့ကွင်း၊ အင်းတကော် ကျေးရွာအုပ်စု၊ အင်းတကော် စက်မှုနယ်မြေ၊ ပဲခူး မြို့နယ်၊ ပဲခူးတိုင်း ဒေသကြီး | ၁.၂၁ | - | CMPစနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း | ၉၅၈ ဦး ပြည်တွင်း ၉၄၈ ဦး ပြည်ပ ၁၀ ဦး | ၅၀ နှစ် |
| Paradiso Cinemas Co., Ltd. | ဦးပိုင်အမှတ်-၂၇၁(A, B, C,D)၊ ၃ ရပ်ကွက်၊ ကွင်းအမှတ်-၁/မြောက်ပိုင်းကွင်း၊ ဘိုကလေး မြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီ တိုင်း ဒေသ ကြီး | ၀.၃၇ | - | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင် ပြသခြင်း လုပ်ငန်း | ၁၄ ဦး (ပြည်တွင်း) | ၁၀ နှစ် |
| Paradiso Cinemas Co. Ltd. | ဦးပိုင်အမှတ် (၁၃/၇၊ ၁၃/၈၊ ၁၃/၉)၊ ကွင်းအမှတ် (၈၈၀)၊ ငါးပိအိုင်ကွင်း၊ အိုင်ဗိုင်း ကျေးရွာအုပ်စု၊မအူပင် မြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး | ၀.၃၇ | - | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင် ပြသခြင်း လုပ်ငန်း | ၁၄ ဦး (ပြည်တွင်း) | ၁၀ နှစ် |
| Paradiso Cinemas Co. Ltd. | ဦးပိုင်အမှတ် (၈ဲ)၊ အကွက်အမှတ်-၄၃၊ ကန်တော်ကြီးအကွက် နန်းခဲ ရပ်ကွက်၊ သထုံ မြို့နယ်၊ သထုံခရိုင်၊ မွန်ပြည်နယ် | ၀.၃၇ | - | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင် ပြသခြင်း လုပ်ငန်း | ၁၄ ဦး (ပြည်တွင်း) | ၅ နှစ် (သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်) |

၃။ အဆိုပါ အတည်ပြုလျှောက်ထားလာမှုများအပေါ် သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရများ၏ အတည်ပြုချက်များ ရရှိထားပြီးဖြစ်သည့်အပြင် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ နှင့် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံမှု ဌာနခွဲများမှလည်း ဥပဒေ၊ နည်းဥပဒေများနှင့်အညီ စိစစ်ထားပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၄။ အဆိုပါလုပ်ငန်းများအပေါ် အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုတင်ပြလာသည့် လုပ်ငန်းပေါင်း(၁၂)ခုမှ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန် ဒေါ်လာ ၁၈.၅၂ သန်း နှင့် ကျပ် ၇၆၃၁.၄၉ သန်းရှိပြီး အလုပ်အကိုင် အခွင့်အလမ်းအနေဖြင့် ပြည်တွင်း(၃၆၅၅)ဦး နှင့် ပြည်ပ(၉၅)ဦးကို ဖန်တီးနိုင်မည် ဖြစ်ပါသည်။

(ခ) တင်ပြထားသော လုပ်ငန်းများအနက် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်သောလုပ်ငန်းများသည် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကို ဤကော်မရှင်၏ အမိန့် ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ တွင် သတ်မှတ်ထားသည့်ဇုန်အမျိုးအစားပေါ် မူတည်၍ လျှောက်ထားနိုင်မည် ဖြစ်ပါသည်။

(ဂ) အတည်ပြုတင်ပြချက်(၁၂)ခု အနက်ဇုန်(၁)တွင် ပါဝင်သည့်လုပ်ငန်း(၂)ခု၊ ဇုန်(၂)တွင် ပါဝင်သည့်လုပ်ငန်း(၃)ခု၊ ဇုန်(၃)တွင် ပါဝင်သည့်လုပ်ငန်း(၄)ခုရှိကြောင်း စိစစ်တွေ့ရှိရ ပါသည်။

(ဃ) အတည်ပြု တင်ပြချက်(၁၂)ခု အနက် Paradiso Cinemas Co., Ltd. မှ တင်ပြလာသည့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း လုပ်ငန်း(၃)ခုမှာ ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် မပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်၊သက်သာခွင့် ပေးရန် မလိုအပ်ကြောင်း စိစစ်တွေ့ရှိ ရပါသည်။

(င) တင်ပြထားသော လုပ်ငန်းများသည် အတည်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(စ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှကော်မရှင် အတည်ပြုမိန့်နှင့်ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ စိုက်ပျိုးရေးကဏ္ဍမှ လုပ်ငန်း (၁)ခု၊ မွေးမြူရေးကဏ္ဍမှ လုပ်ငန်း (၁)ခု ၊ စက်မှုကဏ္ဍမှ လုပ်ငန်း (၇)ခု နှင့် အခြားဝန်ဆောင်မှုကဏ္ဍမှ လုပ်ငန်း(၃)ခု ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

အကြောင်းအရာ။ **မွေးမြူရေးနှင့်ရေလုပ်ငန်းကဏ္ဍမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးခွင့် ပြုပါရန် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှပ်နှံသူ | - The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှု လုပ်ငန်းကုမ္ပဏီလီမိတက်)<br>- ဦးကျော်တင့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - နွားမွေးမြူရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊ စင့်ကင် ကျေးရွာအုပ်စု၊ (O-S-S) စင့်ကင် ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ |
| ၃။ | မြေပိုင်ရှင် | - ဦးကျော်တင့် (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) |
| | မြေအကျယ်အဝန်း | - မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ (၅၀၀၀)ဧက အနက် မြေ (၉၀)ဧက |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | - |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား<br>(က) ပြည်တွင်းမှ ထည့်ဝင် သည့် မတည်ငွေရင်း<br>ပမာဏ/ ရာခိုင်နှုန်း<br>(ခ) နိုင်ငံခြားမှ ယူဆောင် လာမည့် မတည်ငွေရင်း<br>ပမာဏ/ ရာခိုင်နှုန်း<br>**စုစုပေါင်း** | - **ကျပ် ၂၇၈၁.၄၉ သန်း**<br>(က) ငွေသား - ကျပ် ၁၀၇၆.၉၇ သန်း<br>(ခ) စက်ပစ္စည်း - ကျပ် ၄၅၂.၆၈ သန်း<br>(ဂ) အဆောက်အဦးကုန်ကျစရိတ် - ကျပ် ၁၂၃၀.၆၀ သန်း<br>(ဃ) ကုန်ကြမ်း - ကျပ် ၂၁.၂၄ သန်း (US$ ၀.၀၁၆ သန်း)<br>**စုစုပေါင်း - ကျပ် ၂၇၈၁.၄၉ သန်း** |
| ၇။ | အခြားတင်ပြချက် | - ကချင်ပြည်နယ်အစိုးရအဖွဲ့မှ ကန့်ကွက်ရန် မရှိပါကြောင်း ၂၀၁၇ ခုနှစ် ဇွန်လ ၁၉ ရက်စွဲပါစာဖြင့် သဘောထား ပြန်ကြားထားပါသည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ (၂၅-၁၁-၁၉၉၃)ရက်စွဲပါ တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေ (၁၇/၉၃) နှင့် တိရစ္ဆာန်ကူးစက်ရောဂါ ကာကွယ်ရေးနှင့်ထိန်းချုပ်ရေးအတွက် (၅-၈-၁၉၉၉)ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် (၄၅/၉၉)တို့ကို လိုက်နာမွေးမြူပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ အဆိုပြုလုပ်ငန်း ကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေး အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ |

| | | |
|---|---|---|
| | | - မြေအထောက်အထားအဖြစ် ကချင်ပြည်နယ်၊ ဗန်းမော်မြို့နယ်မှ ဦးကျော်တင့် (ခန့်ညား ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများကို နှစ်ရှည် သီးပင်/ ဥယျာဉ်ခြံသီးနှံ စိုက်ပျိုးမှုအတွက် လုပ်ပိုင်ခွင့်ပြုသော အမိန့်စာ တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ကချင်ပြည်နယ်အစိုးရအဖွဲ့ရုံးသို့ ဦးကျော်တင့် အမည်ဖြင့် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများကို နှစ်ရှည် သီးပင်/ဥယျာဉ်ခြံသီးနှံ စိုက်ပျိုးမှုအတွက် လုပ်ပိုင်ခွင့်ပြု ရရှိထားသော မြေ (၅၀၀၀)ဧက အနက် မြေ (၂၀၀၀)ဧက ကို နွားမွေးမြူရေး လုပ်ငန်းဆောင်ရွက်လိုပါသဖြင့် အခြားနည်းအသုံးပြုခွင့်ရရှိရန် မြေစာရင်းပုံစံ(၁၀၅/၁၀၆) ရေးဆွဲခွင့် လျှောက်ထားသည့် အထောက်အထား တင်ပြထားပါသည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ရရှိထားသော မွေးမြူရေးခြံလုပ်ငန်း မှတ်ပုံတင်လက်မှတ် တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သည့် နွားများကို မန္တလေးတိုင်းဒေသကြီး၊ မကွေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်းဒေသကြီး၊ ပဲခူးတိုင်းဒေသကြီး၊ ဧရာဝတီတိုင်းဒေသကြီး၊ ရခိုင်ပြည်နယ်နှင့် ရန်ကုန်တိုင်းဒေသကြီးများမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- The Grand Manufacturing Company Limited ၏ ကုမ္ပဏီ မှတ်ပုံတင်၊ ပုံစံ (၆)၊ (၂၆)၊ MOA, AOA (မိတ္တူ)များအား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၈။ | စိစစ်တင်ပြချက် | - စုစုပေါင်း ဝန်ထမ်းအင်အား ၈၆ ဦး ဖြစ်ပြီး ပြည်တွင်းမှ ၇၀ ဦး နှင့် ပြည်ပမှ ၁၆ ဦး ဖြစ်ပါသည်။ (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၀၀,၀၀၀ နှင့် ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၄၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၅၀၀ ဟု တင်ပြထားပါသည်။)<br>- လုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် အမေရိကန် ဒေါ်လာ ၁၆၃၃၈.၁၂ တန်ဖိုးရှိ ကုန်ကြမ်းစာရင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းမှ နွားများကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC Code. 01412 တွင် အကျုံး ဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုဦးစားပေး မြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် အမျိုးအစား သတ်မှတ်ရာ ဇုန်(၁)တွင် ပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၇ နှစ် ခံစားခွင့်လျှောက်ထားနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

MICJ 167/2016

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ကချင်ပြည်နယ်

စာအမှတ်၊ ၄ / ၇ - ၁၃ (၇၂၁)/ အစိုးရအဖွဲ့(ကချင်)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၁၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထား ပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၆-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၂/ မ-၂၅၅/ ၂၀၁၇(၄၄၁)

The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊ စင့်ကင်ကျေးရွာအုပ်စု၊ (OSS) စင့်ကင်ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ(၅၀၀၀)ဧကအနက် မြေ(၉၀)ဧကတွင် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် လျှောက်ထားမှုနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၇၂(က)အရ အတည်ပြုလွှာအား လက်ခံသည့်ရက်နေ့မှ ရက်ပေါင်း(၃၀) အတွင်း အတည်ပြုမိန့်ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ၂၀၁၇ခုနှစ်၊ ဇွန်လ(၂၀)ရက်နေ့ နောက်ဆုံးထား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာမှုအပေါ် ကချင်ပြည်နယ်အစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရမျိုးတင်)
(ဝန်ကြီး၊ လုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီးဌာန)

မိတ္တူ။

မျှောစာတွဲ
လက်ခံစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ကချင်ပြည်နယ်

စာအမှတ်၊ ၄/၇ -၁၃ (၅၂၁)/ အစိုးရအဖွဲ့ (ကချင်)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၁၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထား ပြန်ကြားပေးပါရန်ကိစ္စ**
ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၆-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၂/ မ-၂၅၅/ ၂၀၁၇(၄၄၁)

The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကချင်ပြည်နယ်၊ ဖားကန့်ခရိုင်၊ ဖားကန့်မြို့နယ်၊ စင့်ကင်ကျေးရွာအုပ်စု၊ (OSS) စင့်ကင်ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ(၅၀၀၀)ဧကအနက် မြေ(၉၀)ဧကတွင် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် လျှောက်ထားမှုနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၇၂(က)အရ အတည်ပြုလွှာအား လက်ခံသည့်ရက်နေ့မှ ရက်ပေါင်း(၃၀)အတွင်း အတည်ပြုမိန့်ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ၂၀၁၇ခုနှစ်၊ ဇွန်လ(၂၀)ရက်နေ့ နောက်ဆုံးထား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာမှုအပေါ် ကချင်ပြည်နယ်အစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရမျိုးတင်)
(ဝန်ကြီး၊ လုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီးဌာန)

မိတ္တူ။

မျှောစာတွဲ
လက်ခံစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၆၀၆ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၅ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅-၅-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၂/မ-၂၅၅/၂၀၁၇(၄၁၆)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၃၁-၅-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ညကခ/ စမရ-၃/ MIC/၂၀၁၇ (၃၂၇)

၁။ The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)မှ ရာခိုင်နူန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကချင်ပြည်နယ်၊ ဖားကန့် ခရိုင်၊ ဖားကန့်မြို့နယ်၊ စင့်ကင်ကျေးရွာအုပ်စု၊ (O-S-S) စင့်ကင်ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ (၅၀၀၀) ဧက အနက် မြေ (၉၀)ဧကတွင် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အဆိုပြုတင်ပြလာသည့် The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) မှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ (၂၅-၁၁-၁၉၉၃) ရက်စွဲပါ တိရစ္ဆာန်ကျန်းမာရေးနှင့် ဖွံ့ဖြိုးရေးဥပဒေ (၁၇/၉၃) နှင့် တိရစ္ဆာန်ကူးစက်ရောဂါကာကွယ်ရေးနှင့်ထိန်းချုပ်ရေးအတွက် (၅-၈-၁၉၉၉) ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၅/၉၉) တို့ကို လိုက်နာမွေးမြူပါက ကန့်ကွက်ရန်မရှိပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်းချက် (၂) ပါစာဖြင့် စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် The Grand Manufacturing Company Limited (ခန့်ညား ထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) မှ

နွားမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ (၂၅-၁၁-၁၉၉၃) ရက်စွဲပါ တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေ (၁၇/၉၃) နှင့် တိရစ္ဆာန်ကူးစက်ရောဂါကာကွယ်ရေးနှင့်ထိန်းချုပ်ရေးအတွက် (၅-၈-၁၉၉၉) ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၅/၉၉) တို့ကို လိုက်နာမွေးမြူပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) The Grand Manufacturing Company Limited

(၃) ရုံးလက်ခံ

(၄) မျှော

မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန ★ နေပြည်တော် ★

စာအမှတ်၊ -----

ရက်စွဲ၊ -----

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

## မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

စာအမှတ်၊ ညကခ/စမရ-၃/MIC/၂၀၁၇ ( ၃၂၇ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၃၁ ရက်

သို့

ပြည်ထောင်စုဝန်ကြီး

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **နွားမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် တင်ပြခြင်း**

ရည်ညွှန်းချက်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၃၁-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၃/၃၀၀၀/မွေးရေကျေး(၅၉၈/၂၀၁၇)

၁။ The Grand Manufacturing Compnay Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊ စင့်ကင်ကျေးရွာအုပ်စု၊ (O-S-S) စင့်ကင်ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ (၅၀၀၀) ဧက အနက် မြေ (၉၀) ဧကတွင် နွားမွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာမှုနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနအနေဖြင့် သဘောထားပြန်ကြားနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန်နှင့် ပူးတွဲပါ အဆိုပြုလွှာတစ်စုံအား ပြန်လည်ပေးပို့ရန် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးမှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ The Grand Manufacturing Compnay Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) မှ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၅-၁၁-၁၉၉၃ ရက်စွဲပါ တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေ (၁၇/၉၃) နှင့် တိရစ္ဆာန်ကူးစက်ရောဂါကာကွယ်ရေးနှင့်ထိန်းချုပ်ရေးအတွက် ၅-၈-၁၉၉၉ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၅/၉၉) တို့ကို လိုက်နာမွေးမြူပါက ကန့်ကွက်ရန်မရှိပါကြောင်း ပူးတွဲပါ အဆိုပြုလွှာတစ်စုံနှင့်အတူ ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်ရုံး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

မျှောစာတွဲ

လက်ခံစာတွဲ

MIC 146 ၈/၆

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၁၂၉/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မေလ ၂၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **The Grand Manufacturing Company Limited မှ နွားမွေးမြူရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၂/ မ-၂၅၅/၂၀၁၇ (၄၁၅)

၁။ The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) မှ ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊ စင့်ကင်ကျေးရွာအုပ်စု၊ (O-S-S) စင့်ကင်ကွင်းပြင်ရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများမြေ (၅၀၀၀) ဧက (၂၀,၂၃၄,၂၈၀ စတုရန်းမီတာ) အနက်မြေ (၉၀) ဧကတွင် နွားမွေးမြူ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အပိုဒ် (၇၁)၊ ၇၂(က) တို့အရအတည်ပြုလွှာ လက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့်အတည်ပြုမိန့်ထုတ်ပေးခြင်းတို့ဆောင်ရွက်နိုင်ရန်အတွက် စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၃၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာတည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြေစာရင်းဦးစီးဌာနမှ ထုတ်ပေးသောမြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများကို နှစ်ရှည်သီးပင်/ ဥယျာဉ်ခြံသီးနှံ စိုက်ပျိုးမှုအတွက်နှစ် (၃၀) လုပ်ပိုင်ခွင့်ပြုထားသော အမိန့်စာနှင့် နွားမွေးမြူရေးလုပ်ငန်းဆောင်ရွက်နိုင်ရန် အခြားနည်းအသုံးပြုခွင့်ရရှိရန် မြေစာရင်းပုံစံ (၁၀၅/၁၀၆) ရေးဆွဲခွင့်လျှောက်ထားသည့်စာဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင်နွားကောင်ရေ (၂၅၅ ကောင်) မှနှစ် (၃၀) အတွင်း (၄,၇၅၆ ကောင်) အထိ မွေးမြူထုတ်လုပ်သွားမည် ဖြစ်ပြီး တစ်နှစ်ပတ်လုံး အမြဲတမ်းလည်ပတ်မွေးမြူမည့် နွားအရေအတွက်မှာ (၂၁၆၅) ရှိမည်ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်

ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) The Grand Manufacturing Company Limited မှ နွားမွေးမြူ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းခွင်မှထွက်ရှိလာနိုင်သောစွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့များကိုစနစ်တကျစီမံခန့်ခွဲမှုမပြုလုပ်ပါကပတ်ဝန်းကျင်လေထု၊ရေထုနှင့်မြေဆီလွှာညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းခွင်သုံးမြက်စဉ်းစက်များ၊ ပြောင်းဖူးကြိတ်စက်များ၊ ရေစုပ်စက်များ၊ ထွန်စက်များ၊ ဒိုင်နမိုများ၊ ဒီဇယ်အင်ဂျင်များနှင့်အေးခဲစက်များကို စနစ်တကျစီမံခန့်ခွဲခြင်းမရှိပါကအဆိုပါစက်ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံများ၊ အခိုးအငွေ့များ၊ စွန့်ပစ်ပစ္စည်းအရည်၊ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်ရေ၊ လေ၊ မြေဆီလွှာထိခိုက်ပျက်စီးစေနိုင်ခြင်း၊

(ဂ) အသားထုတ်လုပ်ခြင်းလုပ်ငန်းခွင်မှ စွန့်ပစ်ပစ္စည်းများကို စနစ်တကျစီမံခန့်ခွဲခြင်းမရှိပါကပတ်ဝန်းကျင်ညစ်ညမ်းနိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုသည့် ယာဉ်၊ ယန္တရားများမှ စက်သုံးဆီနှင့် အခြားစက်ချောဆီများ ယိုဖိတ်ခြင်း၊ အသံဆူညံခြင်း၊ ဖုန်မှုန့်များ၊ အမှုန့်အမွှား၊ အခိုးအငွေ့များ ထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ The Grand Manufacturing Company Limited မှ နွားမွေးမြူ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ပြုလုပ်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက် ၍တစ်ပါတည်းတင်ပြရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ကချင်ပြည်နယ်
ရုံးလက်ခံ

အကြောင်းအရာ။ နွားမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့် အကျဉ်းချုပ် အချက်အလက်များ

| စဉ် | အကြောင်းအရာ | ကုမ္ပဏီအမည် | |
|---|---|---|---|
| | | Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) | The Grand Manufacturing Company Limited (ခန့်ညားထုတ်လုပ်မှု လုပ်ငန်းကုမ္ပဏီလီမိတက်) |
| ၁။ | ခွင့်ပြုမိန့်အမှတ်/ရက်စွဲ | - ၉၇၆/၂၀၁၄ (၈-၄-၂၀၁၄) | - |
| ၂။ | ရင်းနှီးမြှုပ်နှံသူ | - ဦးလီးရင်ရှင် (ခ) မြင့်ဆွေ | - ဦးကျော်တင့် |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | လုပ်ငန်းအမျိုးအစား | - နို့စားနွား၊ အသားစား ကျွဲ၊ နွား မွေးမြူခြင်း၊ နို့နှင့် အေးခဲ အမဲသား ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | - နွားမွေးမြူရောင်းချခြင်းလုပ်ငန်း |
| ၅။ | တည်နေရာ | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ ကျောက်မဲခရိုင်၊ နောင်ချို မြို့နယ်၊ တာတိုင်ရပ်ကွက်၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၆)၊ မြေဧရိယာ (၁၅.၄၂)ဧက | - ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဗန်းမော်မြို့နယ်၊ စင့်ကင် ကျေးရွာအုပ်စု၊ ကွင်းအမှတ်(O-S-S) စင့်ကင်ရှိ မြေဧရိယာ (၉၀)ဧက |
| ၆။ | မြေပိုင်ရှင်<br><br>မြေအကျယ်အဝန်း | -ဒေါ်မိုးရင်ဝင်း<br><br>- မြေဧရိယာ (၁၅.၄၂)ဧက | - ဦးကျော်တင့် (ခန့်ညားထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)<br><br>- မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ မြေ (၅၀၀၀)ဧက အနက် မြေ (၉၀)ဧက |

| | | | |
|---|---|---|---|
| | မြေ/အဆောက်အအုံ ငှားရမ်းခ<br><br>မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | -<br><br>- | -<br><br>- |
| ၇။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၁၀ နှစ် | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |
| ၈။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် | - ၁ နှစ် |
| ၉။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား<br>(က) ပြည်တွင်းမှ ထည့်ဝင်သည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း<br>(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း<br><br>**စုစုပေါင်း** | - ကျပ် ၁၀၀၀.၀၀ သန်း(US$ ၀.၂၃၇ သန်းအပါအဝင်)<br><br>ငွေသား - ကျပ် ၃၈၃.၇၀ သန်း<br>စက်ပစ္စည်းကိရိယာများ - ကျပ် ၄၃၅.၁၅ သန်း (US$ ၀.၂၃၇ သန်းအပါအဝင်)<br>အဆောက်အဦ - ကျပ် ၁၄၀.၀၀ သန်း<br>မြေ - ကျပ် ၁၀.၀၀ သန်း<br>ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း - ကျပ် ၃၁.၁၅ သန်း<br>စုစုပေါင်း - ကျပ် ၁၀၀၀.၀၀ သန်း(US$ ၀.၂၃၇ သန်းအပါအဝင်) | - ကျပ် ၂၇၈၁.၄၉ သန်း(US$ ၀.၀၁၆ သန်း)<br><br>(က) ငွေသား - ကျပ် ၁၀၇၆.၉၇ သန်း<br>(ခ) စက်ပစ္စည်း - ကျပ် ၄၅၂.၆၈ သန်း<br>(ဂ) အဆောက်အဦး ကုန်ကျစရိတ် - ကျပ် ၁၂၃၀.၆၀ သန်း<br>(ဃ) ကုန်ကြမ်း - ကျပ် ၂၁.၂၄ သန်း (US$ ၀.၀၁၆ သန်း)<br>စုစုပေါင်း - ကျပ် ၂၇၈၁.၄၉ သန်း(US$ ၀.၀၁၆ သန်း အပါအဝင်) |

| | | | |
|---|---|---|---|
| ၁၀။ | အခြားတင်ပြချက် | - စုစုပေါင်း ဝန်ထမ်းအင်အား ၇၈ ဦး ဖြစ်ပြီး ပြည်တွင်းမှ ၇၈ ဦး ဖြစ်ပါသည်။ (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၀,၀၀၀ ဟု တင်ပြထားပါသည်။)<br><br>- နို့ကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး အေးခဲအမဲသားကို ပြည်တွင်းတွင် ၄၀% ရောင်းချ၍ ပြည်ပသို့ ၆၀% တင်ပို့မည် ဖြစ်ပါသည်။ | - စုစုပေါင်း ဝန်ထမ်းအင်အား ၈၆ ဦး ဖြစ်ပြီး ပြည်တွင်းမှ ၇၀ ဦး နှင့် ပြည်ပမှ ၁၆ ဦး ဖြစ်ပါ သည်။ (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၉၀၀,၀၀၀ နှင့် ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၄၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၅၀၀ ဟု တင်ပြထားပါသည်။)<br><br>- အဆိုပြုလုပ်ငန်းမှ နွားများကို ပြည်ပသို့ ၁၀၀% တင်ပို့မည် ဖြစ်ပါသည်။ |